# Myanmar C.P Livestock Co., Ltd. မှ တင်ပြသည့် အဆိုပြုလွှာနှင့် စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မှုမှတ်တမ်း
## တိရစ္ဆာန်အစားအစာ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း

| စဉ် | ဆောင်ရွက်သည့်အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့် ရက်စွဲ/ ကုမ္ပဏီမှတင်ပြသည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလျှောက်ထားလွှာ တင်ပြလာခြင်း | | ၂၀-၅-၂၀၁၉ | |
| ၂ | လုပ်ငန်း လိုအပ်ချက်အရ သက်ဆိုင်ရာဝန်ကြီးဌာနများသို့သဘောထား တောင်းခံခြင်း<br>- စက်မှုဝန်ကြီးဌာန | ၃၁-၅-၂၀၁၉ | ၁၇-၆-၂၀၁၉ | |
| | - ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန (One Stop Service) | ၂၇-၅-၂၀၁၉ | ၃၁-၅-၂၀၁၉ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေးသို့ တင်ပြခြင်း | ၁၈/၂၀၁၉<br>(၂၇-၅-၂၀၁၉) | | |
| ၄ | အဆိုပြုချက်အားလက်ခံကြောင်း ပြန်ကြားခြင်း | ၂၈-၅-၂၀၁၉ | | |
| ၅ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်း အဝေးဆုံးဖြတ်ချက်အရ ပြင်ဆင် တင်ပြရန်အကြောင်းကြားခြင်း | ၃-၆-၂၀၁၉ | | |
| ၆ | အဆိုပြုချက်အား ကော်မရှင် အစည်းအဝေးသို့ တင်ပြခြင်း | ၁၀/၂၀၁၉<br>၂၈-၆-၂၀၁၉ | | |
| | စုစုပေါင်းကြာမြင့်ရက် | (၃၉) ရက် | | |

# အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်ပြီးစီးမှု

ကုမ္ပဏီအမည် Myanmar C.P Livestock Co., Ltd.

လုပ်ငန်းအမျိုးအစား တိရစ္ဆာန်အစားအစာ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း

PATအကြိမ်/နေ့စွဲ ၁၈/၂၀၁၉ (၂၇-၅-၂၀၁၉)

| စဉ် | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်အပေါ် ပြင်ဆင်ရန် အချက်များ | ဆောင်ရွက်ပြီးစီးမှု ပြီး ✓ မပြီး X | မှတ်ချက် |
|---|---|---|---|
| ၁ | မြေကွက်(၂)ကွက်၏ တည်နေရာပြမြေပုံ တင်ပြရန်။ | ✓ | |
| ၂ | မြေငှားစာချုပ် ပြင်ဆင်တင်ပြရန်။ | ✓ | |
| ၃ | အဆိုပြုလုပ်ငန်းအတွက် Investment Plan တင်ပြရန်. | ✓ | |

အကြောင်းအရာ။ ရခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar C.P Livestock Co., Ltd. မှ တိရစ္ဆာန်အစားအစာ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ရင်းနှီးမြှုပ်နှံသူ<br>ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန်<br><br><br><br>လုပ်ငန်းအမျိုးအစား | - Myanmar C.P Livestock Co., Ltd.<br>- Mr. Uthai Tantipimolphan (Thai)<br>- ရခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Thana Holding Co., Ltd. (Thailand) ၂၇ %<br>Charoen Pokphand Enterprise Co., Ltd.(Thailand)၂၅%<br>CPG Enterprise Ltd. (British Virgin Islands) ၄၈%<br>- တိရစ္ဆာန်အစားအစာထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - ဦးပိုင်အမှတ်- ၃၀/၂၊ ၃၁/၁၊ ၃၁/၂၊ ၃၁/၃၊ ၃၁/၄၊၃၅၊ ၃၆၊ ၃၆/၂၁၄၊ ၈၂/၁၊ ကွင်းအမှတ်-၁၃၂၇၊ ခံလူးကွင်း၊ စကားအင်း ကျေးရွာအုပ်စု၊ တံတားဦးမြို့နယ်၊ မန္တလေးတိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင်<br>မြေအမျိုးအစား<br>မြေအကျယ်အဝန်း | - ဦးလှဝေ<br>- စက်မှု/ စီးပွား<br>- ဦးပိုင်အမှတ်-၃၀/၂ ရှိ မြေဧက ၃.၀၂ အနက်မှ ၂.၉၆ ဧက<br>- ဦးပိုင်အမှတ်-၃၁/၁ ရှိ မြေဧက ၁.၂၅ အနက်မှ ၁.၂၃ ဧက<br>- ဦးပိုင်အမှတ်- ၃၁/၂ ရှိ မြေဧက ၁.၃၉ အနက်မှ ၁.၃၈ ဧက<br>- ဦးပိုင်အမှတ်- ၃၁/၃ ရှိ မြေဧက ၁.၂၅ ဧက<br>- ဦးပိုင်အမှတ်- ၃၁/၄ ရှိ မြေဧက ၀.၅၄ ဧက<br>- ဦးပိုင်အမှတ်- ၃၅ ရှိ မြေဧက ၈.၂၆ အနက်မှ ၈.၁၈ ဧက<br>- ဦးပိုင်အမှတ်- ၃၆ရှိ မြေဧက ၃.၆၀ အနက်မှ ၃.၅၆ ဧက<br>- ဦးပိုင်အမှတ်- ၃၆/၂၁၄ ရှိ မြေဧက ၀.၉၅ အနက်မှ ၀.၉၁ ဧက<br>- ဦးပိုင်အမှတ်- ၈၂/၁ ရှိ မြေဧက ၁.၈၇ အနက်မှ ၁.၈၁ ဧက<br>- စုစုပေါင်း မြေ ၂၁.၈၂ ဧက (၈၈၃၀၂.၄၉ စတုရန်းမီတာ)<br>- |

| | | |
|---|---|---|
| ၄။ | နှစ်စဉ် မြေငှားရမ်းခ | - တစ်နှစ်ငှားရမ်းခ တစ်ဧကလျှင် ၂,၃၃၇,၃၀၅.၂၂၅ ကျပ်နှုန်းဖြင့် ၂၁.၈၂ ဧက အတွက် ကျပ် ၅၁,၀၀၀,၀၀၀ |
| | မြေငှားရမ်း အသုံးပြုခွင့်သက်တမ်း | - ကနဦး ၃၀ နှစ် နှင့် ၁၀ နှစ် ၂ ကြိမ်သက်တမ်းတိုး |
| ၅။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်သက်တမ်း | - ကနဦး ၅၀ နှစ်နှင့် ၁၀ နှစ် ၂ ကြိမ်သက်တမ်းတိုး |
| | တည်ဆောက်မှုကာလ/ ပြင်ဆင်မှုကာလ | - ၂ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်းပမာဏ | - **အမေရိကန်ဒေါ်လာ ၅၀.၀၀၀ သန်း (ချေးငွေ အမေရိကန်ဒေါ်လာ ၃၅.၀၀၀ သန်းအပါအဝင်)** |
| | ထည့်ဝင်သည့်အမျိုးအစား | |

| | | ထည့်ဝင်ငွေ (US$/သန်း) | ချေးငွေ (US$/သန်း) | စုစုပေါင်း (US$/သန်း) |
|---|---|---|---|---|
| (က) | စီမံကိန်းရေးဆွဲ ရှင်းလင်းပြင်ဆင်ခြင်း | ၀.၄၂၀ | | ၀.၄၂၀ |
| (ခ) | အဆောက်အအုံ | ၈.၉၈၀ | | ၈.၉၈၀ |
| (ဂ) | စက်ပစ္စည်းနှင့် စက်ကိရိယာများ(ပြည်ပ) | | ၂၅.၁၅၀ | ၂၅.၁၅၀ |
| (ဃ) | စက်ပစ္စည်းနှင့် စက်ကိရိယာများ (ပြည်တွင်း) | | ၁.၉၅၀ | ၁.၉၅၀ |
| (င) | မော်တော်ယာဉ်များ (ပြည်တွင်း) | | ၁.၀၀၀ | ၁.၀၀၀ |
| (စ) | မြေငှားခ(နှစ် ၃၀) | ၀.၉၅၆ | | ၀.၉၅၆ |
| (ဆ) | လုပ်ငန်းလည်ပတ်ငွေရင်း | ၄.၆၄၄ | ၆.၉၀၀ | ၁၁.၅၄၄ |
| | **စုစုပေါင်း** | **၁၅.၀၀၀** | **၃၅.၀၀၀** | **၅၀.၀၀၀** |

-

| | | |
|---|---|---|
| ၇။ | ဝန်ထမ်းအင်အား | - **၁၀၀ ဦး** |
| | ပြည်တွင်း | - ၁၀၀ ဦး(ပြည်တွင်း ဝန်ထမ်းတစ်ဦး၏အနိမ့်ဆုံးလစာမှာ ကျပ် ၂၈၀,၀၀၀ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၁,၈၅၈,၅၀၀ ဖြစ်ပါသည်။) |
| ၈။ | ရောင်းချမည့်စနစ် | - ပြည်တွင်း ၁၀၀% |

<table>
<tr>
<td></td>
<td>နှစ်စဉ်ထုတ်လုပ်မှု(ပုံမှန်နှစ်)</td>
<td>
<table>
<tr><th>စဉ်</th><th>အမျိုးအစား</th><th>အရေအတွက် (Ton)</th><th>ရောင်းချမည့် ဈေးနှုန်း (ကျပ်/ Ton)</th></tr>
<tr><td>(က)</td><td>Broiler Feed</td><td>၆၃,၉၉၀</td><td>၆၅၀,၀၀၀</td></tr>
<tr><td>(ခ)</td><td>Layer Feed</td><td>၃၅,၅၅၀</td><td>၅၄၀,၀၀၀</td></tr>
<tr><td>(ဂ)</td><td>Breeder Feed</td><td>၁၁,၈၅၀</td><td>၇၈၀,၀၀၀</td></tr>
<tr><td>(ဃ)</td><td>Fattening Feed</td><td>၄,၇၄၀</td><td>၇၉၉,၀၀၀</td></tr>
<tr><td>(င)</td><td>Other feed</td><td>၂,၃၇၀</td><td>၄၆၀,၀၀၀</td></tr>
</table>
</td>
</tr>
<tr>
<td>၉။</td>
<td>လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်)</td>
<td>- ၇,၉၇၈,၆၀၈ kWh</td>
</tr>
<tr>
<td>၁၀။</td>
<td>အခြားတင်ပြချက်</td>
<td>- မြေအထောက်အထားအဖြစ် ဦးလှဝေ အမည်ဖြင့် ကျောက်ဆည်ခရိုင် အထွေထွေ အုပ်ချုပ်ရေးဦးစီးဌာနမှ တိရစ္ဆာန်အစာစက်ရုံနှင့် အစာသိုလှောင်ရုံအတွက် မြေအသုံးပြုခွင့်ရရှိထားသော အထောက်အထားများနှင့် မြေစာရင်းပုံစံ (၁၀၅)တို့ကို တင်ပြထားပါသည်။<br>- မြေပိုင်ရှင် ဦးလှဝေ နှင့် Myanmar C.P Livestock Co., Ltd. တို့ချုပ်ဆိုမည့် မြေငှား စာချုပ်(မူကြမ်း)၊ စက်ရုံ Layout Plan တည်နေရာပြ မြေပုံ တို့ကိုတင်ပြထားပါသည်။<br>- Myanmar C.P Livestock Co., Ltd. သည် ပြည်တွင်းရှိ နိုင်ငံခြားဘဏ်တစ်ခုခုမှ ချေးငွေ US$ ၃၅.၀၀၀ သန်း ချေးယူမည်ဖြစ်ပြီးအတိုးနှုန်းနှင့် ပြန်လည်ပေးဆပ်မည့် အစီအစဉ်တို့ကို တင်ပြထားပါသည်။<br>- ဒါရိုက်တာများ၏ Passport မိတ္တူများ တင်ပြထားပါသည်။<br>- ငွေရေးကြေးရေး အထောက်အထားအဖြစ် မြန်မာနိုင်ငံရှိ ဘန်ကောက်ဘဏ်တွင် Myanmar C.P Livestock Co., Ltd. အမည်ဖြင့် အမေရိကန်ဒေါ်လာ ၂,၁၄၁,၀၂၃.၆၃ ရှိကြောင်း ဘဏ်အထောက်အထား တင်ပြထားပါသည်။<br>- ဝန်ထမ်းသက်သာ ချောင်ချိရေးအစီအစဉ်၊ လုပ်ငန်းခွင်အတွင်း လုံခြုံမှု ထားရှိရေး အစီအစဉ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ်၊ မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက်နှင့် CSR Project တို့ကို တင်ပြထားပါသည်။<br>-</td>
</tr>
</table>

| | | |
|---|---|---|
| ၁၁။ | စိစစ်တင်ပြချက် | - Tnana Holding Co., Ltd. နှင့် Charoen Pokphand Enterprise Co., Ltd. ၏ Certificate များနှင့် CPG Enterprise Co., Ltd. ၏ အမည်ပြောင်းထောက်ခံချက်တင်ပြထားပါသည်။<br>- အဆိုပြုလုပ်ငန်းသည် ဦးစားပေး မြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင် ပါဝင်ပြီး ISIC Code- 1080 တွင် အကျုံးဝင်ပါသည်။<br>-အဆိုပြုလုပ်ငန်းသည် ဇုန်(၂)တွင် ပါဝင်ပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၂/ခ-၀၄၂/၂၀၁၉( ၁၇၆ )
ရက်စွဲ၊ ၂၀၁၉ ခုနှစ် ဇွန်လ ၂၄ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ရခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar C.P Livestock Co., Ltd. မှ တိရစ္ဆာန်အစားအစာ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ ထိုင်းနိုင်ငံ ရှိ Thana Holding Co., Ltd. မှ ၂၇ %၊ Charoen Pokphand Enterprise Co., Ltd. မှ ၂၅% နှင့် British Virgin Islands ရှိ CPG Enterprise Ltd. မှ ၄၈% အစုရှယ်ယာ ထည့်ဝင်၍ မြန်မာနိုင်ငံတွင် တည်ထောင်ထားသည့် Myanmar C.P Livestock Co., Ltd. မှ ရာခိုင်နှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ဦးပိုင်အမှတ်- ၃၀/၂၊ ၃၁/၁၊ ၃၁/၂၊ ၃၁/၃၊ ၃၁/၄၊ ၃၅၊ ၃၆၊ ၃၆/၂၁၄၊ ၈၂/၁၊ ကွင်းအမှတ်- ၁၃၂၇/ခံလူးကွင်း၊ စကားအင်းကျေးရွာအုပ်စု၊ တံတားဦးမြို့နယ်၊ မန္တလေးတိုင်းဒေသကြီးရှိ မြေ ၂၁.၈၂ ကေ (၈၈၃၀၂.၄၈၅ စတုရန်း မီတာ)အား ငှားရမ်း၍ တိရစ္ဆာန်အစားအစာ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့် ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ မြေပိုင်ရှင် ဦးလှဝေ နှင့် Myanmar C.P Livestock Co., Ltd. တို့ချုပ်ဆိုမည့် မြေငှား စာချုပ် (မူကြမ်း)၊ တည်နေရာပြမြေပုံ၊ အဆောက်အဦ Layout Plan၊ ဦးလှဝေအမည်ဖြင့် ကျောက်ဆည်ခရိုင် အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနမှ တိရစ္ဆာန် အစာစက်ရုံနှင့် အစာသိုလှောင်ရုံအတွက် မြေအသုံးပြုခွင့် ရရှိထားသော အထောက်အထားများနှင့် မြေစာရင်းပုံစံ(၁၀၅)တို့ကို တင်ပြထားပါသည်။

၃။ မြေငှားသက်တမ်းမှာ ကနဦး ၃၀ နှစ် ဖြစ်ပါသည်။ တစ်နှစ်ငှားရမ်းခမှာ တစ်ကေလျှင် ၂,၃၃၇,၃၀၅.၂၂၅ ကျပ်နှုန်း ဖြင့် ၂၁.၈၂ ကေ အတွက် ကျပ် ၅၁,၀၀၀,၀၀၀ ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ၅၀ နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၂ နှစ် ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းမှာ အမေရိကန်ဒေါ်လာ ၅၀.၀၀၀ သန်း (ချေးငွေ အမေရိကန် ဒေါ်လာ ၃၅.၀၀၀ သန်းအပါအဝင်)ဖြစ်ပြီး တစ်ဖက်ပါအတိုင်း ထည့်ဝင်ထားပါသည်-

| | | ထည့်ဝင်ငွေ (US$/သန်း) | ချေးငွေ (US$/သန်း) | စုစုပေါင်း (US$/သန်း) |
|---|---|---|---|---|
| (က) | စီမံကိန်းဧရိယာ ရှင်းလင်းပြင်ဆင်ခြင်း | ၀.၄၂၀ | | ၀.၄၂၀ |
| (ခ) | အဆောက်အအုံ | ၈.၉၈၀ | | ၈.၉၈၀ |
| (ဂ) | စက်ပစ္စည်းနှင့် စက် ကိရိယာများ(ပြည်ပ) | | ၂၅.၁၅၀ | ၂၅.၁၅၀ |
| (ဃ) | စက်ပစ္စည်းနှင့် စက်ကိရိယာများ (ပြည်တွင်းဝယ်) | | ၁.၉၅၀ | ၁.၉၅၀ |
| (င) | မော်တော်ယာဉ်များ (ပြည်တွင်း) | | ၁.၀၀၀ | ၁.၀၀၀ |
| (စ) | မြေငှားခ(နှစ် ၃၀) | ၀.၉၅၆ | | ၀.၉၅၆ |
| (ဆ) | လုည့်လည်ငွေရင်း | ၄.၆၄၄ | ၆.၉၀၀ | ၁၁.၅၄၄ |
| | **စုစုပေါင်း** | **၁၅.၀၀၀** | **၃၅.၀၀၀** | **၅၀.၀၀၀** |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်း ဝန်ထမ်း(၁၀၀)ဦး ခန့်ထားရာတွင် ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၂၈၀,၀၀၀ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၁,၈၅၈,၅၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိမည့် တိရစ္ဆာန်အစားအစာများအား ပြည်တွင်းတွင် ၁၀၀% ရောင်းချမည်ဖြစ်ပြီး ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအစား | အရေအတွက် (Ton) | ရောင်းချမည့် ဈေးနှုန်း (ကျပ်/ Ton) |
|---|---|---|---|
| (က) | Broiler Feed | ၆၃,၉၉၀ | ၆၅၀,၀၀၀ |
| (ခ) | Layer Feed | ၃၅,၅၅၀ | ၅၄၀,၀၀၀ |
| (ဂ) | Breeder Feed | ၁၁,၈၅၀ | ၇၈၀,၀၀၀ |
| (ဃ) | Fattening Feed | ၄,၇၄၀ | ၇၉၉,၀၀၀ |
| (င) | Other Feed | ၂,၃၇၀ | ၄၆၀,၀၀၀ |

၈။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ အောက်ပါအတိုင်း သဘောထား ပြန်ကြားထားပါသည်-

(က) **စက်မှုဝန်ကြီးဌာနမှ** အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ တင်သွင်းမည့် စက်ပစ္စည်းများသည် အမှန်တကယ်လိုအပ်ပြီး လုပ်ငန်းသဘာဝနှင့် ကိုက်ညီမှု ရှိပါကြောင်း သဘောထားပြန်ကြားထားပါသည်။ နောက်ဆက်တွဲ (က)

(ခ) **ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန** ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း(Environmental Impact Assessment-EIA)ကို ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ်(၄၉)၊(၆၃) နှင့်အညီ ပြုစုဆောင်ရွက်ရန်နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental

Management Plan-EMP) ကို ရေးဆွဲတင်ပြရမည်ဖြစ်ကြောင်း ပြန်ကြားထား ပါသည်။ **နောက်ဆက်တွဲ (ခ)**

၉။ ငွေရေးကြေးရေး အထောက်အထားအဖြစ် မြန်မာနိုင်ငံရှိ ဘန်ကောက်ဘဏ် တွင် Myanmar C.P Livestock Co., Ltd. အမည်ဖြင့် အမေရိကန်ဒေါ်လာ ၂,၁၄၁,၇၂၃.၆၃ ရှိကြောင်း ဘဏ်အထောက်အထား တင်ပြထားပါသည်။

၁၀။ Myanmar C.P Livestock Co., Ltd. သည် ပြည်တွင်းရှိ နိုင်ငံခြားဘဏ်တစ်ခုခုမှ ချေးငွေ US$ ၃၅.၀၀၀ သန်း ချေးယူမည်ဖြစ်ပြီး အတိုးနှုန်းနှင့် ပြန်လည်ပေးဆပ်မည့် အစီအစဉ် တို့ကို တင်ပြထားပါသည်။

၁၁။ ဝန်ထမ်းသက်သာ ချောင်ချိရေးအစီအစဉ်၊ လုပ်ငန်းခွင်အတွင်း လုံခြုံမှု ထားရှိရေး အစီအစဉ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ်၊ မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက်နှင့် CSR Project တို့ကို တင်ပြထားပါသည်။

၁၂။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၉ ခုနှစ် မေလ ၂၇ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ၁၈/၂၀၁၉ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၁၃။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှု ကဏ္ဍတွင် ပါဝင်ပြီး ISIC Code-1080 တွင် အကျုံးဝင်ပါသည်။

(ခ) အဆိုပြု လုပ်ငန်းဆောင်ရွက်မည့် နေရာသည် ဇုန်(၂)တွင် ပါဝင်ပါသည်။

(ဂ) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၄။ ရခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar C.P Livestock Co., Ltd. မှ တိရစ္ဆာန် အစားအစာ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

26/6/19

ဥက္ကဋ္ဌ(ကိုယ်စား)

(သန့်စင်လွင်၊ ခေတ္တအတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ (က)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၁၅- စမ(၂) ၂၀၁၈-၂၀၁၉( ၃၀၃၅ )
ရက် စွဲ၊ ၂၀၁၉ ခုနှစ်၊ ဇွန်လ ၁၇ ရက်

သို့

✓ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃၁.၅.၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက -၂/ခ-၀၄၂/၂၀၁၉ ( ၁၃၈ )

၁။ Myanmar C.P Livestock Co.,Ltd. မှ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မန္တလေးတိုင်းဒေသကြီး၊ တံတားဦးမြို့နယ်၊ စကားအင်းကျေးရွာအုပ်စု၊ ခံလူးကွင်း၊ ကွင်းအမှတ် ( ၁၃၂၇ )၊ ဦးပိုင်အမှတ်( ၃၀/၂၊ ၃၁/၁၊ ၃၁/၂၊ ၃၁/၃၊ ၃၁/၄၊ ၃၅၊ ၃၆၊ ၃၆/ ၂၁၄၊ ၈၂/၁ )ရှိ မြေ( ၂၁.၈၂ ) ဧက ( ၈၈၃၀၂.၄၉ စတုရန်းမီတာ )ကို ငှားရမ်း၍ တိရစ္ဆာန်အစားအစာ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်တင်ပြလာခြင်းအပေါ် တင်သွင်းမည့် စက်ပစ္စည်းများသည် လုပ်ငန်း သဘာဝနှင့်ကိုက်ညီခြင်းရှိ/မရှိ သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်း ပါစာဖြင့် ညှိနှိုင်းခဲ့ပါသည်။

၂။ အဆိုပါ ကုမ္ပဏီမှ ဆောင်ရွက်မည့် လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ် တွေ့ရှိရပါသည်-

(က) ပြည်ပမှတင်သွင်းမည့် Soybean Meal, Conola Meal, Feed Additive နှင့် ပြည်တွင်းတွင်ဝယ်ယူမည့် Broken Rice, Yellow Corn, Dry Fish, Full Fat Soybean, Groundnut Cake, Seasame Cake စသည့် ကုန်ကြမ်းများအား အသုံးပြု၍ တိရစ္ဆာန်အစားအစာ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းကို ဆောင်ရွက်မည် ဖြစ်ပါသည်။

( ခ ) ပြည်တွင်းမှ ကုန်ကြမ်းပစ္စည်း( ၇၀ % )၊ နိုင်ငံခြားမှ ကုန်ကြမ်းပစ္စည်း ( ၃၀ % ) အား အသုံးပြု၍ ထုတ်လုပ်သွားမည် ဖြစ်ပါသည်။

( ဂ ) တိရစ္ဆာန်အစားအစာထုတ်လုပ်ရာတွင် အသုံးပြုမည့် Machinery for Dryer and Storage တွင် ပါဝင်သည့် စက်ပစ္စည်း( ၁၂ )မျိုး၊ Feed Mill တွင် စက်ပစ္စည်း( ၁၂ )မျိုး၊ Accessories Work တွင်ပါဝင်သည့် စက်ပစ္စည်း( ၇ )မျိုး နှင့် Equipment for Support Production တွင်ပါဝင်သည့် စက်ပစ္စည်း( ၂ ) မျိုးတို့အား တရုတ်နိုင်ငံမှ တင်သွင်းမည် ဖြစ်ပါသည်။

(ဃ) တိရစ္ဆာန်အစားအစာထုတ်လုပ်ခြင်းလုပ်ငန်းတွင် လုပ်ငန်းခွင် ဘေးအန္တရာယ်ကင်းရှင်းစေရေးအတွက် ဝန်းထမ်းများအား ကိုယ်ခန္ဓာကာကွယ်ရေးကိရိယာနှင့် ဝတ်စုံများ လုံလောက်စွာထုတ်ပေးသင့်ပြီး ပတ်ဝန်းကျင်ဘေးအန္တရာယ် ကင်းရှင်းစေရေးအတွက် သက်ဆိုင်ရာဝန်ကြီးဌာနများမှ ထုတ်ပြန်ထားသည့် တည်ဆဲဥပဒေ၊ နည်းဥပဒေများ၊ အမိန့်နှင့်ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်ရန် လိုအပ်ပါသည်။

( င ) အသုံးပြုမည့်စက်များမှာ Close Type ဖြစ်ပြီး Auto စနစ်ဖြင့် ဆောင်ရွက်မည့်စက်များဖြစ်၍ အနံ့အသက်နှင့် အမှုန်အမွှားများ ပြင်ပသို့ ထွက်ရှိနိုင်ခြင်းမရှိသည့်အတွက် ပတ်ဝန်းကျင် ညစ်ညမ်းမှုကို လျော့နည်းစေနိုင်မည် ဖြစ်ပါသည်။

( စ ) Drying Process တွင် အသုံးပြုမည့် လောင်စာအမျိုးအစားကိုလိုက်၍ Emission Guide Line နှင့်အညီ ဆောင်ရွက်သင့်ပါသည်။ ပြည်ပမှတင်သွင်းမည့် အရိုးမှုန့်၊ ပဲပုတ်နှင့် နေကြာတို့အား စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန၊ ကုန်သွယ်ရေးဦးစီးဌာန၏ ခွင့်ပြုချက်ဖြင့် ဆောင်ရွက်ရမည် ဖြစ်ပါသည်။

၃။ သို့ပါ၍ Myanmar C.P Livestock Co.,Ltd. မှ တိရစ္ဆာန်အစားအစာ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် တင်သွင်းမည့် စက်ပစ္စည်းများသည် အမှန်တကယ်လိုအပ်ပြီး လုပ်ငန်းသဘာဝနှင့်ကိုက်ညီမှုရှိပါကြောင်းနှင့် အထက်ပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်မည်ဆိုပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

( ကိုကိုလွင်၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို

စက်မှုပူးပေါင်းဆောင်ရွက်ရေးဦးစီးဌာန

စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန

မျှောစာတွဲ

ရုံးလက်ခံ

နောက်ဆက်တွဲ (ခ)

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS)/ ၀၁(၂၃/၇၉ )
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ မေလ ၃၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Myanmar C.P Livestock Co., Ltd. မှ တိရစ္ဆာန်အစားအစာထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၇-၅-၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက-၂/ခ-၀၄၂/ ၂၀၁၉ (၁၃၄)

MIC / 164 / 3/6

၁။ ထိုင်းနိုင်ငံရှိ Thana Holding Co., Ltd. မှ ၂၇%၊ Charoen Pokphand Enterprise Co., Ltd. မှ ၂၅% နှင့် British Virgin Islands ရှိ CPG Enterprise Ltd. မှ ၄၈% အစုရှယ်ယာများအသီးသီးထည့်ဝင်၍ မြန်မာနိုင်ငံတွင် Myanmar C.P Livestock Co., Ltd. တည်ထောင်ပြီး ရခိုင်ရှန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဦးပိုင်အမှတ်- ၃၀/၂၊ ၃၁/၁၊ ၃၂/၂၊ ၃၂/၃၊ ၃၂/၄၊ ၃၅၊ ၃၆၊ ၃၆/၂၄၊ ၈၂/၁၊ ကွင်းအမှတ်- ၁၃၂၇၊ ခံလူးကွင်း၊ စကားအင်းကျေးရွာအုပ်စု၊ တံတားဦးမြို့နယ်၊ မန္တလေးတိုင်းဒေသကြီးရှိ မြေ ၂၁.၈၂ ဧက (၈၈,၃၀၂.၄၀ စတုရန်းမီတာ) အား ငှားရမ်း၍ တိရစ္ဆာန်အစားအစာ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသော အဆိုပြုလွှာတွင် ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၅၀) နှစ်ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀) နှစ် (၂) ကြိမ်ဆောင်ရွက်မည်ဖြစ်ကာ၊ တည်ဆောက်ရေးကာလမှာ (၂) နှစ်ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအား မြေ (၈၈,၃၀၂.၄၀ စတုရန်းမီတာ) တွင် ကုန်ကြမ်းများ သိုလှောင်ရန်အဆောက်အဦများအပါအဝင် လိုအပ်သော အဆောက်အဦများတည်ဆောက်၍ လုပ်ငန်းများဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်းမှ တိရစ္ဆာန်အစားအစာထုတ်လုပ်မှုအနေဖြင့်ပထမနှစ်တွင်တန်ချိန် (၃၉၅) ကျော်မှ (၁၀) နှစ်အတွင်းတန်ချိန် (၁၀၀၀) ကျော်အထိတိုးမြှင့်ထုတ်လုပ်ရောင်းချသွားမည်ဖြစ်ကြောင်း၊

(ဃ) ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေး ကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်းထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(င) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၂%) ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(စ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး/လုပ်နည်း၊ အမိန့်နှင့် ညွှန်ကြားချက်များကိုလိုက်နာဆောင်ရွက်သွားမည် ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) Myanmar C.P Livestock Co., Ltd. မှ တိရစ္ဆာန်အစားအစာ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ရာတွင် အဆောက်အဦများတည်ဆောက်ရာ၌ မြေပြုပြင်ခြင်းနှင့် ဆောက်လုပ်ရေးလုပ်ငန်းခွင်မှ ထွက်ရှိလာမည့် ဖုန်မှုန့်များ၊ တုန်ခါမှုများ၊ လုပ်ငန်းသုံးယာဉ်/ယန္တရားများမှ ထွက်ရှိလာမည့် စက်ဆီ၊ ချောဆီ၊ အခိုးအငွေ့များကြောင့် အနီးပတ်ဝန်းကျင်ရှိ လေထု၊ မြေထုနှင့် ရေထု ညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်း၊

(ခ) တည်ဆောက်လုပ်ငန်းသုံး ယာဉ်/ယန္တယားများနှင့် စက်ပစ္စည်းများမှ ထွက်ရှိလာမည့်စက်ဆီ၊ ချောဆီနှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ရှိ မြေထု၊ ရေထုနှင့် လေထုညစ်ညမ်းခြင်း၊

(ဂ) အလုပ်သမားများ၏ စွန့်ပစ်ပစ္စည်းများနှင့် မိလ္လာအညစ်အကြေးများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်း၊

(ဃ) တိရစ္ဆာန်အစားအစာများ ထုတ်လုပ်ရာတွင် အသုံးပြုသည့် ကုန်ကြမ်းပစ္စည်းများကို စနစ်တကျထားသိုမှုမရှိခြင်း၊ စွန့်ပစ်မှု မရှိခြင်းတို့ကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု ဖြစ်စေနိုင်ခြင်း၊

(င) ထုတ်လုပ်မှုလုပ်ငန်းစဉ်မှ ထွက်ရှိလာမည့် အခိုးအငွေ့၊ အမှုန့်အမွှားများနှင့် ဆူညံသံများကြောင့် ပတ်ဝန်းကျင်အား အနှောင့်အယှက် ဖြစ်ပေါ်စေနိုင်ခြင်း၊ တိရစ္ဆာန်အစားအစာများမှ ထွက်ရှိလာမည့် အနံ့အသက်များကြောင့် ပတ်ဝန်းကျင်ရှိ ပြည်သူများအား ကျန်းမာရေး ထိခိုက်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများဖြစ်ပေါ်လာ နိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Myanmar C.P Livestock Co., Ltd. မှ တိရစ္ဆာန်အစားအစာထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည် -

(က) အဆိုပြုလုပ်ငန်းများ ကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ ကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေ

မည့်နည်းစနစ်များ အားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင် ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသားတင် အမြတ်ငွေ၏ (၂%) ကို အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျ လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၉)၊ (၆၃) နှင့်အညီ ပြုစု ဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၅၊ ၄၆ တို့အရစီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း **(Environmental Impact Assessment-EIA)** မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့် တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့် စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၇ မှ အပိုဒ် ၅၄ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံစာနှင့်ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ ဆောင်ရွက်သွားမည့် လုပ်ငန်းတစ်ခုချင်းအလိုက် လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်း သိမ်းရေးဝန်ကြီးဌာနသို့တင်ပြ အတည်ပြုချက်ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာပါအချက်များအပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာ (EIA)** ကိုဆောင်ရွက်ပြီးသယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်၊

(စ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သောပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ

အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက်၍တစ်ပါတည်းတင်ပြရန်၊

(ဓ) သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ဆန္ဒနှင့် သဘောထားများကိုလည်းရယူ ဆောင်ရွက်ရန်၊

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင် (ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ မန္တလေးတိုင်းဒေသကြီး
ရုံးလက်ခံ